ကုမ္ပဏီအမည် - Yangon City Red Sun Co., Ltd.

လုပ်ငန်း - **သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၂၉-၁-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃-၂-၂၀၁၆ | ၂၉-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ | ၃-၂-၂၀၁၆ | ၁၁-၂-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၃-၂-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း | ၂၅-၁-၂၀၁၆ ၄/၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၉-၁-၂၀၁၆ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | | | |
| ၇ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး (၃/၂၀၁၆) သို့ တင်ပြခြင်း | ၃၀-၁-၂၀၁၆ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | တင်ပြပြီးဖြစ်ပါသည်။ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် အစုံပေးပို့ခြင်း | ၄-၃-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | ၄၇ ရက် | | |

၁။ ကုမ္ပဏီအမည် Yangon City Red Sun Co., Ltd.
၂။ အဖွဲ့အစည်းပုံသဏ္ဌာန် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
၄။ တည်နေရာ မြေကွက်အမှတ်(၁၈၆)၊ စက်မှုဇုန်(၁)၁၁၃၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၂.၆၀၀ သန်း
၆။ ရောင်းချမည့်စနစ် ပြည်ပ ၃၀% နှင့် ပြည်တွင်း၇၀%
၇။ လုပ်ငန်းသက်တမ်း ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ်
၈။ အရင်းကြေကာလ ၄ နှစ် ၄ လ
၉။ IRR ၂၈.၉၉%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၂၅.၉၃၈ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၆၄၇.၅၀၀ |
| ၅ | ဝင်ငွေခွန် | ၆၃၀.၀၀၀ | ၁၁၃၁.၂၅၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၃၆၅.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက် ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၀)ဦး |
| ၈ | CSR (၂%) | | ၆၀.၀၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၄၁၁.၂၅၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၃၅ ဦး<br>ပြည်ပ ၆ ဦး<br>ပြည်တွင်းလုပ်သား(၃၅)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၇၅၈.၀၉၈ | ၃၆၁၆.၁၆၅ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ ရာနိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Yangon City Red Sun Co., Ltd. မှ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Yangon City Red Sun Co., Ltd.<br>- Mr. Zhang Wujun (Chinese) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာနိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Zhang Wujun (Chinese) 55 %<br>- Mr. Li Jinyang (Chinese) 45 % |
| | လုပ်ငန်းအမျိုးအစား | - သစ်ပေါင်းသားအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၁၈၆)၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်စန်းစန်းအေး |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၃၂၄ ဧက (၉၄၀၄.၉၀ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၀၀' x ၂၀၀' |
| ၃။ | နှစ်စဉ်<br>မြေနှင့်အဆောက်အဦငှားရမ်းခ | - တစ်နှစ်လျှင် US $ ၄၇,၀၂၄.၅၀<br>တစ်စတုရန်းမီတာလျှင် US $ ၅ |
| ၄။ | မြေငှားရမ်းကာလ | - ၅၀ နှစ်နှင့် ၁၀ နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - US$ ၂.၆၀၀ သန်း<br>(US $ သန်း)<br>ငွေသား ၀.၅၇၉<br>စက်နှင့် စက်ပစ္စည်း ၂.၀၁၆<br>ရုံးသုံးပစ္စည်း ၀.၀၀၅<br>**စုစုပေါင်း ၂.၆၀၀** |
| ၆။ | ဝန်ထမ်းအင်အား | - **၄၁ ဦး** |
| | ပြည်တွင်း | - ၃၅ ဦး (အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၆ ဦး(အမြင့်ဆုံးလစာမှာ USD ၁,၁၀၀ ဖြစ်ပြီးအနိမ့်ဆုံး လစာမှာ USD ၅၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်ပ ၃၀% နှင့် ပြည်တွင်း၇၀% |

၈။ ရောင်းချမည့်ပစ္စည်း (ဖြန့်စမ်းနှစ်မြောက်)

| စဉ် | အမျိုးအမည် | အရေအတွက် (Ton) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/ US$) |
|---|---|---|---|
| | ပြည်တွင်း (၇၀ %) | | |
| (က) | Steamed wood 14 mm( 4'x8') | ၇၅၈ | ၃၅၆,၇၇၃.၁၇ |
| | Steamed wood 15 mm( 4'x8') | ၁,၁၃၇ | ၃၄၉,၆၄၂.၉၅ |
| | Steamed wood 16 mm( 4'x8') | ၁,၆၆၇ | ၃၃၈,၁၉၆.၃၀ |
| | Steamed wood 18 mm( 4'x8') | ၁,၅၁၅ | ၃၂၈,၃၆၅.၀၉ |
| | Steamed wood 25 mm( 4'x8') | ၄၇၉ | ၂၉၉,၆၉၃.၉၅ |
| | ပြည်ပ (၃၀ %) | | |
| (ခ) | Steamed wood 14 mm( 4'x8') | ၃၂၅ | ၂၈၅.၄၂ |
| | Steamed wood 15 mm( 4'x8') | ၄၈၇ | ၂၇၉.၇၁ |
| | Steamed wood 16 mm( 4'x8') | ၇၁၄ | ၂၇၀.၅၆ |
| | Steamed wood 18 mm( 4'x8') | ၆၄၉ | ၂၆၂.၆၉ |
| | Steamed wood 25 mm( 4'x8') | ၂၀၅ | ၂၃၉.၇၆ |

| | | |
|---|---|---|
| ၉။ | ကုမ္ပဏီဝင်ငွေ(ဆဋ္ဌမမြောက်နှစ်) | - US $ ၂.၁၄၀ သန်း |
| | ကုန်ကျစရိတ် | - US $ ၁.၇၉၅ သန်း |
| | အသားတင်အမြတ် | - US $ ၀.၃၄၅ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၁၁၅ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၀၇၄ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၄ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၈.၉၉ % |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၅၀၀,၀၀၀ kWh |
| ၁၂။ | အခြားတင်ပြချက် | - Yangon City Red Sun Co., Ltd. ၏ ကုမ္ပဏီကဒ် မိတ္တူ၊ MOA, AOA နှင့် ပုံစံ ၆/၂၆ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဒေါ်စန်းစန်းအေး နှင့် မြေငှားသူ Yangon City Red Sun Co., Ltd. တို့ချုပ်ဆိုထားသော မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ်(မူကြမ်း) မြေအထောက် အထားနှင့် အဆောက်အဦ ဓာတ်ပုံတို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာစာရင်း၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ငွေရေးကြေးရေးအထောက်အထားအဖြစ်တရုတ်နိုင်ငံ၊China Construction Bank တွင် (၁၃-၁၁-၂၀၁၅) ရက်နေ့အထိ Mr. Zhang Wujun အမည်ဖြင့် ယွမ် ၈၈၅,၀၀၀.၀၀ ( US$ ၁၃၉,၈၃၀)နှင့် Mr. Li Jinyang အမည်ဖြင့် ယွမ် ၈၀၀,၀၀၀.၀၀ (US$ ၁၂၆,၄၀၀) ရှိကြောင်း နှင့် မြန်မာနိုင်ငံ၊ ကမ္ဘောဇဘဏ်တွင် Yangon City Red Sun Co., Ltd. အမည်ဖြင့် ၁၁-၁၂-၂၀၁၅ ရက်နေ့ အထိ အမေရိကန်ဒေါ်လာ ၅၀,၀၀၀.၀၀ ရှိကြောင်း ဖော်ပြထားသည့် ငွေကြေးအထောက်အထား တင်ပြထား ပါသည်။<br>- Exchange Rate အဖြစ် 1US$ = 1250 MMK ဖြင့် တွက်ချက် တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - အလုပ်အကိုင် အခွင့်အလမ်းရရှိမှု၊ လျှပ်စစ်ဓါတ်အား အသုံးပြုမှု အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင် မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက် အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေး စီမံချက်နှင့် CSR အစီအစဉ်တို့ကို တင်ပြ ထားပါသည်။<br>- နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန်ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးနှင့် စီးပွားရေးရာ ကော်မတီ အစည်းအဝေးမှ ခွင့်ပြုခဲ့ပြီး ပြည်ထောင်စု အစိုးရ အဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။<br>- ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စု အစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ န - ၁၄၅ / ၂၀၁၆ ( ၂၁၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Yangon City Red Sun Company Limited မှ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံသား Mr. Zhang Wujun မှ ၅၅ % နှင့် Mr. Li Jinyang မှ ၄၅ % ဖြင့် မြန်မာနိုင်ငံတွင် Yangon City Red Sun Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁) ၁၁၃၊ မြေကွက်အမှတ် (၁၈၆)ရှိ မြေနှင့် အဆောက်အဦ အကျယ်အဝန်း စုစုပေါင်း၂.၃၂၄ ဧက (၉၄၀၄.၉၀ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ပေါင်းသား အမျိုးမျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်စန်းစန်းအေးနှင့် မြေငှားသူ Yangon City Red Sun Co., Ltd. တို့ ချုပ်ဆိုထားသော မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ်(မူကြမ်း)၊ မြေအထောက်အထားနှင့် အဆောက်အဦ ဓာတ်ပုံတို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၂.၃၂၄ ဧက (၉၄၀၄.၉၀ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ တစ်စတုရန်းမီတာလျှင် US$ ၅ နှုန်းဖြင့် တစ်နှစ်ငှားရမ်းခမှာ US$ ၄၇,၀၂၄.၅၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် နှင့် (၁၀) နှစ် နှစ်ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၂.၆ဝ သန်း ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | အမေရိကန်ဒေါ်လာ (သန်း) |
|---|---|---|
| (က) | ငွေသား | ဝ.၅၇၉ |
| (ခ) | စက်နှင့် စက်ပစ္စည်း | ၂.ဝ၁၆ |
| (ဂ) | ရုံးသုံးပစ္စည်း | ဝ.ဝဝ၅ |
| | စုစုပေါင်း | ၂.၆ဝဝ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ(၃၅)ဦးနှင့် ပြည်ပဝန်ထမ်းဦးရေ(၆)ဦး စုစုပေါင်း (၄၁) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅ဝ,ဝဝဝ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅ဝဝ,ဝဝဝ ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၅ဝဝ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ အမေရိကန် ဒေါ်လာ ၁,၁ဝဝ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ပစ္စည်းများကို ပြည်ပ ၃ဝ % နှင့် ပြည်တွင်း ၇ဝ % ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် (Ton) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ US$) |
|---|---|---|---|
| | ပြည်တွင်း (၇ဝ %) | | |
| (က) | Steamed wood 14 mm( 4'x8') | ၇၅၈ | ၃၅၆,၇၇၃.၁၇ |
| | Steamed wood 15 mm( 4'x8') | ၁,၁၃၇ | ၃၄၉,၆၄၂.၉၅ |
| | Steamed wood 16 mm( 4'x8') | ၁,၆၆၇ | ၃၃၈,၁၉၆.၃ဝ |
| | Steamed wood 18 mm( 4'x8') | ၁,၅၁၅ | ၃၂၈,၃၆၅.ဝ၉ |
| | Steamed wood 25 mm( 4'x8') | ၄၇၉ | ၂၉၉,၆၉၃.၉၅ |
| | ပြည်ပ (၃ဝ %) | | |
| (ခ) | Steamed wood 14 mm( 4'x8') | ၃၂၅ | ၂၈၅.၄၂ |
| | Steamed wood 15 mm( 4'x8') | ၄၈၇ | ၂၇၉.၇၁ |
| | Steamed wood 16 mm( 4'x8') | ၇၁၄ | ၂၇ဝ.၅၆ |
| | Steamed wood 18 mm( 4'x8') | ၆၄၉ | ၂၆၂.၆၉ |
| | Steamed wood 25 mm( 4'x8') | ၂ဝ၅ | ၂၃၉.၇၆ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်ဒေါ်လာ(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂.၁၄၀ |
| (ခ) | အသုံးစရိတ် | ၁.၇၉၅ |
| (ဂ) | အသားတင်အမြတ် | ၀.၃၄၅ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၁၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၀၇၄ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၈.၉၉ % ဖြစ်ပါသည်။

၁၀။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ စက်မှုဝန်ကြီးဌာနနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့တို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လိုက်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ် (၁၁၃)၊ မြေကွက်အမှတ် (၁၈၆)ရှိ မြေနှင့် အဆောက်အဦ အကျယ်အဝန်း စုစုပေါင်း ၂.၃၂၄ ဧက (၉၄၀၄.၉၀ စတုရန်းမီတာ) အား (US$ 5 per square meter per year) နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်နိုင်ရာတွင်သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန်စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်းစသည့် အချက်များကြောင့် ၂၅-၂-၂၀၁၆ ရက်နေ့တွင် ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရ

အဖွဲ့ အစည်းအဝေးအမှတ်စဉ် (၉/၂၀၁၆)၊ ဆုံးဖြတ်ချက် အပိုဒ် (၄၃)အရ အဆိုပါ ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှု၊ ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာ ဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှု မှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။[ကုမ္ပဏီမှ **စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိတင်ပြထားပါသည်။**]

**နောက်ဆက်တွဲ(ခ)**

(ဂ) ပတ်ဝန်းကျင် **ထိန်းသိမ်းရေးဦးစီးဌာန၊** ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့မှ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ခြင်းသည် သစ်တောဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ သစ် ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ပြုလုပ်ကျင်းပမည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း၊ ကုမ္ပဏီ အနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သစ်တော သယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှ တားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများ တင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက် များအား ဖြည့်ဆည်းနိုင်ပါကြောင်း၊ ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များ အား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အား အသားတင် အမြတ်ငွေ၏ ၂ % ကို အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လုပ်ငန်း စီမံချက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial

Environmental Examination-IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊ အဆိုပါ လေ့လာ ဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါသည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောက်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိတင်ပြထား ပါသည်။]** **နောက်ဆက်တွဲ(ခ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် တရုတ်နိုင်ငံ၊ China Construction Bank တွင် (၁၃-၁၁-၂၀၁၅) ရက်နေ့အထိ Mr. Zhang Wujun အမည်ဖြင့် ယွမ် ၈၈၅,၀၀၀.၀၀ ( US$ ၁၃၉,၈၃၀) နှင့် Mr. Li Jinyang အမည်ဖြင့် ယွမ် ၈၀၀,၀၀၀.၀၀ (US$ ၁၂၆,၄၀၀)ရှိကြောင်းနှင့် မြန်မာနိုင်ငံ၊ ကမ္ဘောဇဘဏ်တွင် Yangon City Red Sun Co., Ltd. အမည်ဖြင့် ၁၁-၁၂-၂၀၁၅ ရက် နေ့အထိ အမေရိကန်ဒေါ်လာ ၅၀,၀၀၀.၀၀ ရှိကြောင်း ဖော်ပြထားသည့် ငွေကြေး အထောက်အထား တင်ပြထားပါသည်။

၁၂။ Yangon City Red Sun Co., Ltd.မှ ပတ်ဝန်းကျင်ထိန်းသိမ်းမှု အစီအစဉ်၊ အလုပ် အကိုင်အခွင့်အလမ်းရရှိမှု၊ လျှပ်စစ်ဓါတ်အား အသုံးပြုမှုအစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်နှင့် CSR အစီအစဉ်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်

ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးနှင့် စီးပွားရေးရာ ကော်မတီ အစည်းအဝေးမှ ခွင့်ပြုခဲ့ပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ တရုတ်နိုင်ငံသား Mr. Zhang Wujun မှ ၅၅ % နှင့် Mr. Li Jinyang မှ ၄၅ % ဖြင့် မြန်မာနိုင်ငံတွင် Yangon City Red Sun Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်(၁) ၁၁၃၊ မြေကွက်အမှတ် (၁၈၆)ရှိ မြေနှင့် အဆောက်အဦ အကျယ်အဝန်း စုစုပေါင်း ၂.၃၂၄ ဧက (၉၄၀၄.၉၀ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ပေါင်းသား အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Yangon City Red Sun Co., Ltd. | (၁) Mr. Zhang WuJun<br>Chinese<br>E 22598130<br>(၂) Mr. Li Jinyang<br>Chinese<br>E 34241815 | Henan Xing Yang City Wang Cwe, Zhen wang Cwe, Republic of China.<br>Henan Xing Yang City Wang Cwe, Zhen wang Cwe, Republic of China. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၄၄၈၀၀၇၉၉၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ် (၁၃) ၊ ၅ လွှာ၊ လိပ်ကန်လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးစိုင်းခမ်းကိုင်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - သစ်ပေါင်းသား အမျိုးမျိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၆၇၅ အက်ဖ်စီ/၂၀၁၅-၂၀၁၆ (ရက)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၁၇-၁၁-၂၀၂၀

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၄၅/ ၂၀၁၆(၁၀၃)

၁။ တရုတ်နိုင်ငံ Mr. Zhang Wujun မှ ၅၅%နှင့် Mr. Li Jinyang မှ ၄၅%ဖြင့် မြန်မာနိုင်ငံတွင် Yangon City Red Sun Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)၊ မြေကွက်အမှတ်(၁၈၆)ရှိ မြေနှင့်အဆောက်အဦ အကျယ်အဝန်းစုစုပေါင်း ၂. ၃၂၄ ဧက(၉၄၀၄. ၉၀ စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)၊ မြေကွက်အမှတ်(၁၈၆)ရှိ မြေနှင့်အဆောက်အဦ အကျယ်အဝန်းစုစုပေါင်း ၂. ၃၂၄ ဧက(၉၄၀၄. ၉၀ စတုရန်းမီတာ)အား (USD-5 per square meter per year)နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/9.,(6)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၅. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၉/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၃)အရ Yangon City Red Sun Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Yangon City Red Sun Co., Ltd.
လက်ခံစာတွဲ
မျှော်စာတွဲ

D/2016/Cabinet/9.,(7)



MIC, 76/1612

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၉၄၄)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက်

MPT.539 15.7.2016

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၄၅/၂၀၁၆ (၁၀၄)

၁။ Yangon City Red Sun Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)၊ မြေကွက်အမှတ်(၁၈၆)တွင် သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Yangon City Red Sun Co.,Ltd. မှ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ပြီး

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန

နောက်ဆက်တွဲ(ဂ)




MIC, 87
22/2

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/MIC(OSS)/ECD/၀၁(၅၂/၁၆)
ရက် စွဲ၊ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Yangon City Red Sun Co.,Ltd မှ သစ်ပေါင်းသားအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၅/ ၂၀၁၆(၀၉၈)

၁။ တရုတ်နိုင်ငံ Mr.Zhang Wujun မှ၅၅%နှင့်Mr.Li Jinyang မှ ၄၅%ဖြင့်မြန်မာနိုင်ငံတွင် Yangon City Red Sun Co.,Ltd တည်ထောင်ကာရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)၊ မြေကွက်အမှတ်(၁၈၆)ရှိ မြေနှင့်အဆောက်အဦးအကျယ်အဝန်း စုစုပေါင်း ၂.၃၂၄ဧက(၉၄၀၄.၉၀စတုရန်းမီတာ)ကို ငှားရမ်းကာ သစ်ပေါင်းသားအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ရည်ညွှန်းစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါ သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများနှင့် ပတ်သက်၍ စိစစ်ရာတွင် ဓာတုဗေဒပစ္စည်းများအားသုံးစွဲရန်လိုအပ်ခြင်းကြောင့် ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း သုံးစွဲခြင်းလုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ၊ လေ၊ မြေညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့် သစ်လုံးခွဲရာတွင်လွှများ၊ အခြားကိရိယာပစ္စည်းများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများအန္တရာယ်ဖြစ်နိုင်ခြင်း၊ စက်ရုံဧရိယာအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်

ကြောင်း စီစစ်တွေ့ရှိရပါသည်။

၃။ Yangon City Red Sun Co.,Ltdမှ သစ်ပေါင်းသားအမျိုးမျိုးထုတ်လုပ်ခြင်းသည် သစ်တောဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စီစစ်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း၊ သစ်ကုန်ကြမ်းရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှပြုလုပ်ကျင်းပမည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့်သစ်ကုန်ကြမ်းများကို ပြည်ပမှတင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင်သစ်တော သယံဇာတအရင်းအမြစ်များကိုချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှတားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်များအား ဖြည့်ဆည်းနိုင်ပါကြောင်းဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Yangon City Red Sun Co.,Ltdမှ သစ်ပေါင်းသားအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံမှု ( Corporate Social Responsibility – CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination –IEE )ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း

ဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

( ဇော်မိုး )
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

၄

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ